ကန့်သတ်



အကြောင်းအရာ။ ရခိုင်ပြည်နယ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Hexing Natural Rubber Industry Company Limited မှ အဆင့်မြင့်ရာဘာ ထုတ်လုပ်၍ ပြည်ပသို့ ရခိုင်ပြည်နယ် တင်ပို့ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ရင်းနှီး မြှုပ်နှံသူ | - Myanmar Hexing Natural Rubber Industry Co., Ltd. |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်ပြည်နယ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု XIAMEN HONGSHUN IMPORT & EXPORT COMPANY LIMITED (CHINA) ၁၀၀ % |
| | လုပ်ငန်းအမျိုးအစား | - အဆင့်မြင့် ရာဘာထုတ်လုပ်၍ ပြည်ပသို့ ရခိုင်ပြည်နယ် တင်ပို့ခြင်း လုပ်ငန်း<br>- (Manufacturing of Standard Rubber for 100% export) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၂၉၇/က၊ ကွင်းအမှတ်-OSS-၇၊ ကြေးတိုင်ပြင်ကွင်း၊ ဝဲဝင်ကရာကျေးရွာအုပ်စု၊ သံဖြူဇရပ်မြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်<br>- ဦးပိုင်အမှတ်- ၅၀၇၊ ကွင်းအမှတ်- OSS-၇၊ ကြေးတိုင်ပြင်ကွင်း၊ ဝဲဝင်ကရာကျေးရွာအုပ်စုသံဖြူဇရပ်မြို့နယ်၊မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ် |
| ၃။ | မြေအသုံးပြုခွင့် ရရှိသူ | - ဦးဝေယံမင်းအောင် |
| | မြေအမျိုးအစား | - ဦးပိုင်အမှတ်- ၂၉၇/က၊ လယ်ယာမြေ<br>- ဦးပိုင်အမှတ်- ၅၀၇၊ လယ်ယာမြေ |
| | မြေအကျယ်အဝန်း | - ဦးပိုင်အမှတ်-၂၉၇/က ရှိမြေဧရိယာ ၁၁.၈၇ ဧကအနက်မှ OSS-၇ ရှိ မြေ ၄.၈၂ ဧက+ OSS-၇ ရှိ မြေ ၆.၃၈ ဧက ၊ စုစုပေါင်း ၁၁.၂ ဧက နှင့် ဦးပိုင်အမှတ်- ၅၀၇ ရှိမြေဧရိယာ ၇.၄၈ ဧက စုစုပေါင်းမြေ ၁၈.၆၈ ဧက (၇၅၅၉၅.၂၇ စတုရန်းမီတာ) |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - ဦးပိုင်အမှတ်- ၂၉၇/က အတွက် တစ်စတုရန်းမီတာလျှင် US$ ၀.၂၄၇၁ နှုန်းဖြင့် ၁၁.၂ ဧကအတွက် US$ ၁၁,၂၀၀<br>ဦးပိုင်အမှတ်- ၅၀၇ အတွက် တစ်စတုရန်းမီတာလျှင် US$ ၀.၂၄၇၁ နှုန်းဖြင့် ၇.၄၈ ဧက အတွက် US$ ၇,၄၈၀ |
| | မြေငှားရမ်းအသုံးပြုခွင့်သက်တမ်း | - ကနဦး၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |

ကန့်သတ်

| | | |
|---|---|---|
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၃နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ၂၀.၀၀၀ သန်း |

| | | ပြည်ပ (US$ သန်း) |
|---|---|---|
| (က) | ငွေသား | ၂.၀၆၀ |
| (ခ) | စက်ပစ္စည်းနှင့် စက် ကိရိယာများ | ၈.၅၀၉ |
| (ဂ) | အဆောက်အဦ တန်ဖိုး | ၇.၀၃၃ |
| (ဃ) | ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၂.၃၉၈ |
| | စုစုပေါင်း | ၂၀.၀၀၀ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၁၇၂ ဦး |
| | ပြည်တွင်း | - ၁၇၀ဦး( အနိမ့်ဆုံးလစာမှာကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာကျပ် ၅၀၀,၀၀၀ ဖြစ် ပါသည်။) |
| | ပြည်ပ | - ၂ဦး(လစာမှာUS$ ၁,၅၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာ မှာ US$ ၃,၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀% |
| | ထုတ်လုပ်မှု(ပုံမှန်နှစ်) | |

| စဉ် | အမျိုးအစား | အရေအတွက် (Ton) | ရောင်းချမည့် ဈေးနှုန်း (US$/Ton) |
|---|---|---|---|
| (က) | Standard Rubber | ၂၆,၂၅၀ | ၁,၃၀၀ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၆၈၉,၈၂၄ kWh |
| ၁၀။ | အခြားတင်ပြချက် | - မြေအထောက်အထားအဖြစ်ဦးဝေယံမင်းအောင်အမည်ဖြင့် ဦးပိုင်အမှတ်-၂၉၇/က ရှိမြေဧရိယာ ၁၁.၂ ဧကအား စိုက်ပျိုးမြေအဖြစ်လယ်ယာမြေကိုသတ်မှတ်သည့်နည်းလမ်းအတိုင်း အသုံးပြုခွင့်အမိန့်စာအားလည်းကောင်း၊ဦးပိုင်အမှတ်-၅၀၇ ရှိမြေဧရိယာ ၇.၄၈ ဧကအား စက်ရုံမြေအဖြစ် အသုံးပြုရန် အတွက် အခြားနည်းအသုံးပြုခွင့် လျှောက်ထားဆဲ အထောက်အထားကိုလည်းကောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - မြေပိုင်ရှင် ဦးဝေယံမင်းအောင်နှင့် Myanmar Hexing Natural Rubber Industry Co., Ltd. တို့ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ မြေအထောက်အထားများနှင့် Layout Plan တို့ကို တင်ပြထားပါသည်။<br>- အသုံးပြုမည့် ရာဘာသစ်ကုန်ကြမ်းများအား မွန်ပြည်နယ် နှင့် တနင်္သာရီတိုင်းဒေသကြီးတို့မှ ကုန်ကြမ်း ရောင်းချသည့် ဒိုင်များမှ ဝယ်ယူမည်ဖြစ်ကြောင်းတင်ပြထား ပါသည်။<br>- ဒါရိုက်တာများ၏ Passport မိတ္တူများ တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ C.B Bank တွင် Myanmar Hexing Natural Rubberr Co., Ltd. အမည်ဖြင့် ၁၄-၁၁-၂၀၁၉ ရက်နေ့တွင် US$ ၁၀၀,၁၀၀.၀၀ ရှိကြောင်း ဘဏ် အထောက်အထား တင်ပြ ထားပါသည်။<br>- ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ ဝင်ငွေခွန်ပေးဆောင်မည့် အစီအစဉ်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- စက်ပစ္စည်းတန်ဖိုး US$ ၈.၅၀၉ သန်းနှင့် အခြား ဆောက်လုပ်ရေး ပစ္စည်းတန်ဖိုး US$ ၂.၃၉၈ သန်းအားပြည်ပမှ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းအတွက်လုပ်ငန်းစီမံချက်အားတင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍ တွင် ပါဝင်ပြီး ISIC Code- 221 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဇုန်(၂)တွင် ပါဝင်ပါသည်။<br>- လယ်ယာမြေရောင်းချသူ ဒေါ်ခင်လှနှင့် ဝယ်ယူသူ ဦးဝေယံမင်းအောင်တို့၏ လယ်ယာမြေအရောင်းအဝယ်စာချုပ်နှင့် မြေအထောက်အထားများကိုလည်း တင်ပြထားပါသည်။ |

ကန့်သတ်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက -၂/ခ-၀၆၁ /၂၀၂၀( ၁၁၅ )
ရက်စွဲ၊ ၂၀၂၀ပြည့်နှစ် မေလ ၂၅ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ရခိုင်နွှန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Hexing Natural Rubber Industry Company Limited မှ အဆင့်မြင့်ရာဘာ ထုတ်လုပ်၍ ပြည်ပသို့ ရခိုင်နွှန်းပြည့် တင်ပို့ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်နိုင်ငံရှိ XIAMEN HONGSHUN IMPORT & EXPORT Company Limited မှ ၁၀၀ % အစု ရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar Hexing Natural Rubber Industry Co., Ltd. မှ ရခိုင်နွှန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ် ၂၉၇/က၊ ကြေးတိုင်ပြင်ကွင်း၊ ဝဲဝင်ကရာကျေးရွာအုပ်စု၊ သံဖြူဇရပ်မြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်ရှိ မြေရိယာ ၁၁.၈၇ ကေအနက်မှ OSS-၇ ရှိ မြေ ၄.၈၂ ကေ+ OSS-၇ ရှိ မြေ ၆.၃၈ကေ စုစုပေါင်း ၁၁.၂ ကေ နှင့် ဦးပိုင်အမှတ်-၅၀၇၊ OSS-၇၊ ကြေးတိုင်ပြင်ကွင်း၊ ဝဲဝင်ကရာကျေးရွာအုပ်စု၊ သံဖြူဇရပ်မြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်ရှိ မြေရိယာ ၇.၄၈ ကေ စုစုပေါင်းမြေရိယာ ၁၈.၆ ၈ ကေ (၇၅၅၉၅.၂၇ စတုရန်းမီတာ)အား ငှားရမ်း၍ အဆင့်မြင့်ရာဘာ ထုတ်လုပ်၍ ပြည်ပသို့ ရခိုင်နွှန်းပြည့် တင်ပို့ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းချက်ပါစာဖြင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ မြေအထောက်အထားအဖြစ် မြေပိုင်ရှင် ဦးဝေယံမင်းအောင်နှင့် Myanmar Hexing Natural Rubber Industry Co., Ltd. အကြား ချုပ်ဆိုမည့်မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)နှင့် လယ်ယာမြေ ရောင်းချသူ ဒေါ်ခင်လှ နှင့် ဝယ်ယူသူ ဦးဝေယံမင်းအောင် တို့၏ လယ်ယာမြေ အရောင်းအဝယ်စာချုပ်နှင့် မြေအထောက်အထားများကိုလည်း တင်ပြထားပါသည်။ ဦးပိုင်အမှတ် -၂၉၇/က၊ OSS-၇ ရှိ မြေရိယာ ၁၁.၂ ကေမှာ လယ်ယာမြေအခြားနည်းအသုံးပြုခွင့်ရရှိပြီး ဦးပိုင်အမှတ် -၅၀၇၊ OSS-၇ ရှိ မြေရိယာ ၇.၄၈ ကေမှာ အခြားနည်းအသုံးပြုခွင့် လျှောက်ထားဆဲ အထောက်အထားများ တင်ပြထားပါသည်။

ကန့်သတ်

၃။ မြေငှားသက်တမ်းမှာကနဦး၅၀နှစ်ဖြစ်ပါသည်။ ဦးပိုင်အမှတ်-၂၉၇/ကအတွက် တစ်စတုရန်းမီတာလျှင် US$ ၀.၂၄၇၁ နှုန်းဖြင့် ၄၅၃၂၂စတုရန်းမီတာ (၁၁.၂ ဧက) အတွက် တစ်နှစ်ငှားရမ်းခ US$ ၁၁,၂၀၀၊ ဦးပိုင်အမှတ် -၅၀၇ အတွက် တစ်စတုရန်းမီတာလျှင် US$ ၀.၂၄၇၁ နှုန်းဖြင့် ၃၀၂၇၀ စတုရန်းမီတာ(၇.၄၈ ဧက)အတွက် တစ်နှစ်ငှားရမ်းခ US$ ၇,၄၈၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀နှစ် သက်တမ်းတိုး ၁၀နှစ် ၂ ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏စုစုပေါင်းမတည်ငွေရင်းမှာအမေရိကန်ဒေါ်လာ၂၀ သန်းဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်ပ (US$ သန်း) |
|---|---|---|
| (က) | ငွေသား | ၂.၀၆၀ |
| (ခ) | စက်ပစ္စည်းနှင့် စက် ကိရိယာများ | ၈.၅၀၉ |
| (ဂ) | အဆောက်အဦ တန်ဖိုး | ၇.၀၃၃ |
| (ဃ) | ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းတန်ဖိုး | ၂.၃၉၈ |
| | စုစုပေါင်း | ၂၀.၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၁၇၀) ဦး၊ ပြည်ပဝန်ထမ်း (၂) ဦး စုစုပေါင်း(၁၇၂ ) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံး လစာမှာ US$ ၁,၅၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၃,၀၀၀ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် အဆင့်မြင့် ရာဘာများအားပြည်ပသို့ ၁၀၀% ရောင်းချမည် ဖြစ်ပြီး ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (kg) | ရောင်းချမည့်ဈေးနှုန်း (ကျပ်/ kg) |
|---|---|---|---|
| (က) | Standard Rubber | ၂၆,၂၅၀ | ၁,၃၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထားပြန်ကြားထားပါသည်-

(က) မွန်ပြည်နယ်အစိုးရအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (က)

(ခ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ကို

ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကိုရေးဆွဲတင်ပြရမည် ဖြစ်ကြောင်း ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ(ခ)

၉။ နိုင်ငံကူးလက်မှတ် မိတ္တူများကိုလည်း တင်ပြထားပြီး၊ငွေကြေးအထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ C.B Bank တွင် Myanmar Hexing Natural Rubberr Co., Ltd. အမည်ဖြင့် US$ ၁၀၀,၁၀၀.၀၀ ရှိကြောင်း ဘဏ် အထောက်အထား တင်ပြထားပါသည်။

၁၀။ စက်ပစ္စည်းတန်ဖိုး US$ ၈.၅၀၉ သန်းနှင့် အခြား ဆောက်လုပ် ရေးပစ္စည်းတန်ဖိုး US$ ၂.၃၉၈ အား ပြည်ပမှ တင်သွင်းမည်ဖြစ် ကြောင်း တင်ပြထားပါသည်။

၁၁။ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ ဝင်ငွေခွန်ပေးဆောင်မည့် အစီအစဉ်နှင့် CSR Project တို့ကို တင်ပြ ထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ခုနှစ် ဒီဇင်ဘာလ ၂၄ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄၁/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code-221 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) အသုံးပြုမည့် ရာဘာသစ်ကုန်ကြမ်းများအား မွန်ပြည်နယ်နှင့် တနင်္သာရီ တိုင်းဒေသကြီး တို့မှ ကုန်ကြမ်း ရောင်းချသည့် ဒိုင်များမှ ဝယ်ယူမည်ဖြစ်ကြောင်းတင်ပြထား ပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Hexing Natural Rubber Industry Co., Ltd. မှ အဆင့်မြင့်ရာဘာ ထုတ်လုပ်၍ ပြည်ပသို့ ရာခိုင်နှုန်းပြည့် တင်ပို့ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-ဂ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပြည်နယ်အစိုးရအဖွဲ့
# မွန်ပြည်နယ်

စာအမှတ်၊၂၀၀/ ၄ - ၃/ အဖရ(မွန်)(၀၀၄၁)

ရက်စွဲ၊၂၀၂၀ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၁၂-၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၆၁/၂၀၁၉(၃၉၉-က)

တရုတ်နိုင်ငံရှိ Xiamen Hongshun Import & Export Co.,Ltd မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Hexing Natural Rubber Industry Co.,Ltd တည်ထောင်ကာ သံဖြူဇရပ်မြို့နယ်၊ ဝဲဝင်ကရာကျေးရွာအုပ်စု၊ ကြေးတိုင်ပြင်ကွင်း၊ ကွင်းအမှတ်(OSS-၇)၊ ဦးပိုင်အမှတ်(၂၉၇/က)၊ မြေဧရိယာ(၁၁.၈၇) ဧကအနက်မှ (O-S-S-၂)ရှိ မြေဧရိယာ(၄.၈၂)ဧက+ (O-S-S-၇) ရှိမြေ(၆.၃၈)ဧက၊ စုစုပေါင်း(၁၁.၂)ဧကနှင့် ဦးပိုင်အမှတ်(၅၀၇)ရှိ မြေဧရိယာ(၇.၄၈)ဧက စုစုပေါင်း မြေဧရိယာ(၁၈.၆၈)ဧက၊ (၇၅၅၉၅.၂၇)စတုရန်းမီတာအားငှားရမ်း၍ အဆင့်မြင့်ရော်ဘာထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်ပတ်သက်၍ (၅-၂-၂၀၂၀) ရက်နေ့တွင် ကျင်းပပြုလုပ်သော **မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၆/၂၀၂၀)၊ ဆုံးဖြတ်ချက်အပိုဒ်(၃၄)အရ တရုတ်နိုင်ငံရှိ Xiamen Hongshun Import & Export Co.,Ltd မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Hexing Natural Rubber Industry Co.,Ltd တည်ထောင်ကာ အဆင့်မြင့်ရော်ဘာ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း** ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )
(လှဝင်းတင်၊ အတွင်းရေးမှူး)

မိတ္တူကို

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး၊ မွန်ပြည်နယ်အစိုးရအဖွဲ့

လုညွှန်လည်စာတွဲ/ ရုံးလက်ခံ

2 2020 Feb 8

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁( ၆၁ / ၁၉ )
ရက်စွဲ၊ ၂၀၁၉ခုနှစ်၊ ဒီဇင်ဘာလ ၁၉ ရက်

AHM 19/12

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Hexing Natural Rubber Industry Company Limited မှ အဆင့်မြင့်ရာဘာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၁၂-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၆၁/ ၂၀၁၉(၃၉၈)

၁။ တရုတ်နိုင်ငံရှိ XIAMEN HONGSHUN IMPORT & EXPORT Co., Ltd. မှ ၁၀၀% အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar Hexing Natural Rubber Industry Co., Ltd. မှ ရခိုင်ပြည်နယ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၂၉၇/က၊ ကွင်းအမှတ် O.S.S-၇၊ ကြေးတိုင်ပြင်ကွင်း၊ ဝဲဝင်ကရာကျေးရွာအုပ်စု၊ သံဖြူဇရပ်မြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်ရှိ မြေဧရိယာ ၁၁.၈၇ ဧကအနက်မှ O.S.S-၂ ရှိ မြေ ၄.၈၂ ဧက+ O.S.S-၇ ရှိမြေ ၆.၃၈ ဧက စုစုပေါင်းမြေ ၁၁.၂ ဧကနှင့် ဦးပိုင်အမှတ်- ၅၀၇၊ O.S.S-၇၊ ကြေးတိုင်ပြင်ကွင်း၊ ဝဲဝင်ကရာ ကျေးရွာအုပ်စု၊ သံဖြူဇရပ်မြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်ရှိ မြေဧရိယာ ၇.၄၈ ဧကစုစုပေါင်းမြေဧရိယာ ၁၈.၆၈ ဧက (၇၅၅၉၅.၂၇ စတုရန်းမီတာ)အားငှားရမ်း၍ အဆင့်မြင့်ရာဘာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသောရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၃)နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ ၇.၄၈ဧက (၇၅၅၉၅.၂၇ စတုရန်းမီတာ) တွင် အဆင့်မြင့်ရာဘာထုတ်လုပ်ရန်အတွက် စက်ရုံအပါအဝင် လုပ်ငန်းအတွက် လိုအပ်သည့် အဆောက်အဦ (၁၄) လုံးအား တည်ဆောက်ကာလုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် ကုန်ကြမ်းတန် (၃) သောင်းကျော်အားအသုံးပြု၍ ကုန်ချောတန် (၂) သောင်းကျော်ထုတ်လုပ်မည်ဖြစ်ပြီး နှစ် (၃၀) အတွင်း ကုန်ကြမ်းတန် (၄) သောင်းကျော်အသုံးပြု၍ ကုန်ချောတန် (၃) သောင်းကျော် ထိတိုးမြှင့်ထုတ်လုပ်ကာ ပြည်ပသို့ တင်ပို့ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှ နှစ်စဉ်ရေကုဗမီတာ (၁၉၂,၅၀၀$m^3$) ခန့်အားအသုံးပြုကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar Hexing Natural Rubber Industry Company Limited မှ အဆင့်မြင့်ရာဘာထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆောက်အဦများတည်ဆောက်ရာတွင် မြေပြုပြင်ရေးလုပ်ငန်းများ ဆောင်ရွက်ရာမှထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင်လိုအပ်သည့်ရေအားစနစ်တကျထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(င) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် SO2, NOx စသည့် အခိုးအငွေ့များကြောင့် လေထုညစ်ညမ်းခြင်း၊ စွန့်ပစ်အရည်များကြောင့် ရေထုညစ်ညမ်းပြီး ရေအရည်အသွေးကျခြင်း၊ စွန့်ပစ်အစိုင်အခဲများကြောင့် မြေထုညစ်ညမ်းခြင်း၊ လုပ်ငန်းလည်ပတ်ရာတွင် စက်ရုံထွက်ရှိလာမည့် ဆူညံသံများနှင့် အခိုးအငွေ့များကြောင့် လုပ်ငန်းခွင်ရှိအလုပ်သမားများနှင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Hexing Natural Rubber Industry Company Limited မှ အဆင့်မြင့်ရာဘာထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကိုအောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်

စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)**ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ** (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကိုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့်လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ

ဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

( ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မွန်ပြည်နယ်
ရုံးလက်ခံ